# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/န-၄၄၅/ ၂၀၁၀(၁၀၄၀၉)
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဇူလိုင်လ (၁၅) ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ Myanmar Auto Corporation တည်ထောင်၍ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ။

၁။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)ပိုင် တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ် ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧက ၁၃၃၆၀၀ ပေါ်တွင် ဆီအုန်းဧက ၁၀၀,၆၀၀ စိုက်ပျိုးရန် ကိုရီးယားနိုင်ငံ Auto Industrial Group Limited. မှ ၅၁ % နှင့် စင်ကာပူနိုင်ငံ Resources & Resources Pte, Ltd. မှ ၄၉ % ဖြင့် Myanmar Auto Corporation တည်ထောင်၍ ဆီအုန်း စိုက်ပျိုးခြင်း နှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်းကို ထုတ်လုပ်မှု အပေါ် ခွဲဝေ ခံစားခြင်း (Production Sharing Contract) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါသည်။ ထုတ်လုပ်မှု၏ ၄၀%ကို ပြည်ပသို့ရောင်းချ၍ ၆၀%ကို ပြည်တွင်း၌ရောင်းချခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းဖြစ်ပါသည်။

၂။ အဆိုပြုချက်ကို ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၃/၂၀၁၀)(၈-၄-၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ "Resources & Resources Pte., Ltd. (R&R)" ၏ ဒါရိုက်တာ အဖွဲ့ဝင်များမှာ မည်သူများ ဖြစ်သည်ကို ပြန်လည် စိစစ်ရန်နှင့် စိစစ်၍ ရှင်းလင်းပြီးမှသာ ကုန်သွယ်မှုမူဝါဒကောင်စီ သို့ ပြန်လည်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

၃။ အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနနှင့် နိုင်ငံခြားရေး ဝန်ကြီးဌာနတို့မှ Resources & Resources Pte., Ltd.(R&R) ၏ ဒါရိုက်တာ အဖွဲ့ဝင်များနှင့် လုပ်ငန်း အခြေအနေများ၊ ငွေရေးကြေးရေးဆိုင်ရာ အခြေအနေများနှင့် လုပ်ငန်းရည်ရွယ်ချက်အား အကောင်အထည် ဖော်နိုင်မှု ရှိ-မရှိ အခြေအနေများအား စင်ကာပူနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ တဆင့် စုံစမ်းခဲ့ပါသည်။

၄။ နိုင်ငံခြားရေး ဝန်ကြီးဌာနမှ စင်ကာပူနိုင်ငံရှိ Resources & Resources Pte., Ltd. (R&R)သည် ကိုရီးယားနိုင်ငံရှိ Auto Industrial Group ကုမ္ပဏီကို နောက်ခံပြု၍ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံနိုင်ရန် ရည်ရွယ်ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည်ကို တွေ့ရှိရပါ ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် အလားအလာရှိသော ကုမ္ပဏီဖြစ်ကြောင်း ဖော်ပြထားပါသည်။ ကုမ္ပဏီနှင့် ပတ်သက်သည့် အထောက်အထားများအား ပူးတွဲတင်ပြအပ်ပါသည်။

၅။ စင်ကာပူနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ ၎င်းကုမ္ပဏီသည် မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံ နိုင်ရန် ရည်ရွယ်၍ စင်ကာပူသမ္မတနိုင်ငံ၌ အထွေထွေ စီးပွားရေးလုပ်ငန်း ဘက်စုံဆောင်ရွက် နိုင်ရန် ဖွဲ့စည်းထားသော ကုမ္ပဏီတစ်ခုဖြစ်သည်ကို တွေ့ရှိရပါကြောင်းနှင့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် အလားအလာရှိသော ကုမ္ပဏီတစ်ခုဖြစ်ပါကြောင်း ပြန်ကြားလာပါသည်။ R&R ကုမ္ပဏီသည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ ဖွဲ့စည်းတည်ထောင်ခြင်း မပြုရသေးကြောင်း၊ ပြည်ထဲရေး ဝန်ကြီးဌာန၏ ပြန်ကြားစာတွင် ဖော်ပြပါရှိပါသည်။

၆။ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ Auto Industrial Group ကုမ္ပဏီ အနေဖြင့် တနင်္သာရီတိုင်း၊ ဆီအုန်းစိုက်ပျိုး အကောင်အထည်ဖော်မှုကို အပြည့်အဝတာဝန်ယူ အကောင်အထည်ဖော်ဆောင်ရွက်ရန် ဖြစ်ပြီး R&R ကုမ္ပဏီအနေဖြင့်လည်း လုပ်ငန်းတစ်ခုတွင် စီးပွားဖြစ်ထွန်းရန် အလားအလာကောင်းများ ရှိနေပါကြောင်းနှင့် Auto Industrial Group အနေဖြင့် ဦးဆောင်ကုမ္ပဏီအဖြစ် လည်းကောင်း၊ R&R ၏မိတ်ဆွေကုမ္ပဏီအဖြစ် ဆောင်ရွက် နိုင်ပါကြောင်း တင်ပြထားပါသည်။

၇။ အဆိုပြုချက်နှင့်အတူ ရွှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာန၊ တနင်္သာရီတိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ တနင်္သာရီ တိုင်း မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်)၊ တနင်္သာရီတိုင်း တိုင်းမြေစာရင်း ဦးစီးဌာနနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များကို နောက်ဆက်တွဲ(က) အဖြစ် လည်းကောင်း၊ ထုတ်လုပ်မှုအပေါ် အကျိုးအမြတ်ခွဲဝေသည့် စာချုပ် (Product Sharing Agreement) (မူကြမ်း)ကို နောက်ဆက်တွဲ(ခ) အဖြစ်လည်းကောင်း ပူးတွဲတင်ပြထားပါသည်။

၈။ လုပ်ငန်း၏ ကနဦးရင်းနှီးမြှုပ်နှံမှုမှာ ချေးငွေ US$ ၅၇ သန်းအပါအဝင် စုစုပေါင်း US$ ၆၂.၀ သန်းဖြစ်ပြီး ၎င်းတွင် ငွေသား US$ ၁၇.၈၇၅ သန်း၊ စက်ပစ္စည်းကိရိယာ US$ ၂၂.၃၅၈ သန်း၊ ကုန်ကြမ်းနှင့်အလားတူပစ္စည်းများ US$ ၂၀.၁၄၀သန်းနှင့် ကျွမ်းကျင်မှု နည်းပညာ US$ ၀.၆၀၀ သန်းတို့ ပါဝင်ပါသည်။

၉။ လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅)နှစ်ဖြစ်ပြီး နှစ်ဘက်သဘောတူ ညီချက်ဖြင့် နောက်ထပ်(၂၅)နှစ် သက်တမ်းတိုးဆောင်ရွက်ရန်ဖြစ်ပါသည်။ စိုက်ပျိုးရေးကာလ (တည်ဆောက်ရေးကာလ) (၆)နှစ်ဖြစ်ပါသည်။

၁၀။ Auto Industrial Group (AUTO & R&R)သည် တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ် ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧရိယာ (၁၃၃၆၀၀)ဧကအနက် စိုက်ပျိုးမြေ ဖော်ထုတ်နိုင်မည့် မြေဧရိယာ (၁၀၀,၆၀၀) ဧကကို အောက်ပါအတိုင်း နှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးမည် ဖြစ်ပါ သည်။

| နှစ် | ဖော်ထုတ်စိုက်ပျိုးမည့်ဧရိယာ |
|---|---|
| ပထမနှစ် | ၆၀၀ ဧက |
| ဒုတိယနှစ် | ၁၀,၀၀၀ ဧက |
| တတိယနှစ် | ၁၅,၀၀၀ ဧက |
| စတုတ္ထနှစ် | ၂၅,၀၀၀ ဧက |
| ပဥ္စမနှစ် | ၂၅,၀၀၀ ဧက |
| ဆဋ္ဌမနှစ် | ၂၅,၀၀၀ ဧက |
| စုစုပေါင်း | ၁၀၀,၆၀၀ ဧက |

၁၁။ စားအုန်းဆီရောင်းဈေးနှုန်းမှာ တစ်တန်လျှင် US$ ၄၂၀ ဖြစ်ပါသည်။ တစ်နှစ်ပျမ်းမျှ ထုတ်လုပ်မှုမှာ ၁၄၆,၉၅၈ တန်ဖြစ်ပါသည်။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

US$(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၈၈.၇၀ |
| (ခ) | အသုံးစရိတ် | ၇၀.၄၉ |
| (ဂ) | အသားတင်အမြတ် | ၁၈.၂၁ |

၁၂။ လုပ်ငန်း၏ အရင်းကြေကာလ (၁၃)နှစ်ဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၂၉% ဖြစ်ပါသည်။

၁၃။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှစီမံကိန်းကာလအတွင်းUS$(၈၉.၁၆၆)သန်း ရရှိနိုင်မည် ဖြစ်သည့်အပြင် ခန့်မှန်းခြေ ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန် စုစုပေါင်း US$(၂၆၀) သန်းခန့် ရရှိနိုင်မည်ဖြစ်ပါသည်။

၁၄။ Auto Industrial Group (AUTO & R&R)သည် ယခုထွက်ရှိလာမည့် စားအုန်းဆီ ကုန်ကြမ်းနှင့် ဆီချောများကို မြေရှင်အဖြစ် ဆောင်ရွက်မည့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်းသို့ ဆီသီးခိုင် စတင်ထွက်ရှိ လာသည့် အချိန်မှ စ၍ အောက်ပါအတိုင်း ခွဲဝေခံစားမည်ဖြစ်ကြောင်း စာချုပ်(မူကြမ်း)အပိုဒ် ၅.၁၅ တွင် ဖော်ပြထား ပါသည်။

| စဉ် | ကာလ | ထွက်ရှိမှုအပေါ် ပေးရန်အချိုး | ရရှိနိုင်မည့် မျှော်မှန်း ထွက်ကုန်ပမာဏ(တန်) |
|---|---|---|---|
| (က) | ဆီသီးခိုင်ထွက်ရှိလာချိန်မှ (၁၀)နှစ်ထိ | ၂.၅ % | ဆီကြမ်း (၁၁,၇၀၀) |
| (ခ) | (၁၁)နှစ်မှ (၁၄)နှစ်ထိ | ၅ % | ဆီကြမ်း (၃၉,၄၀၀) |
| (ဂ) | (၁၅)နှစ်မှ (၁၈)နှစ်ထိ | ၇ % | ဆီကြမ်း (၆၃,၄၀၀) (သို့မဟုတ်) ဆီချော(၄၇,၅၀၀) |
| (ဃ) | (၁၉)နှစ်မှ (၂၂)နှစ်ထိ | ၅ % | ဆီကြမ်း (၄၅,၅၀၀) (သို့မဟုတ်) ဆီချော(၃၄,၉၀၀) |
| (င) | (၂၃)နှစ်မှစ၍ နောက်ပိုင်း | ၂.၅ % | ဆီကြမ်း (၅၁,၃၀၀) (သို့မဟုတ်) ဆီချော(၃၈,၅၀၀) |

၁၅။ စာချုပ်(မူကြမ်း)အပိုဒ် ၅.၁၅ အရ ကော်မတီသည် နှစ်စဉ်မျှော်မှန်းထားသည့် ထုတ်လုပ်မှုပမာဏထက် လျော့နည်းပါက နှစ်စဉ်ထုတ်လုပ်မှုကို လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့တင်ပြပြီး မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်းအတွက် ထုတ်လုပ်မှုကို ခွဲဝေခံစားမည်ဖြစ်ပါသည်။ အကယ်၍ စိုက်ပျိုးနိုင်သည့် မြေဧရိယာသည် စီမံကိန်းပါ မျှော်မှန်းထားသည့် ဧရိယာထက်လျော့နည်းခဲ့လျှင် Auto Industrial Group (AUTO & R&R) မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းနှင့် မြေယာဖွံ့ဖြိုးမှုအတွက် ပြန်လည်ညှိနှိုင်းရေးဆွဲရန် အဆိုပြုမည်ဖြစ်ကြောင်း စာချုပ်တွင် ဖော်ပြထားပါသည်။ စာချုပ်(မူကြမ်း)အပိုဒ်၅.၁၇အရ ကုမ္ပဏီ၏ နှစ်စဉ်ဆီအုန်း ထုတ်လုပ်မှုအပေါ် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်းနှင့် Auto Industrial Group (AUTO & R&R)မှ ကျွမ်းကျင်သူများ ဖွဲ့စည်းထားသည့် ကော်မတီမှ မျှတသည့် ခွဲဝေမှုကို အတည်ပြုမည်ဖြစ်သည်။ နှစ်စဉ်ထုတ်လုပ်မှုကို (၆)လတစ်ကြိမ် စစ်ဆေးအတည်ပြုမည်ဖြစ်သည်။ နှစ်စဉ်ထုတ်လုပ်မှုအပေါ် ကော်မတီ၏ အတည်ပြုချက်နှင့်အညီ စာချုပ်အတိုင်း လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့သည် ထုတ်လုပ်မှုပမာဏကို ခွဲဝေမည် ဖြစ်သည်။

၁၆။ စာချုပ်(မူကြမ်း)အပိုဒ် ၈.၂ အရ စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် (သို့မဟုတ်) စာချုပ်ဝင်တစ်ဖက်က စာချုပ်ကို ရပ်စဲပါက Auto Industrial Group (AUTO & R&R)သည် မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်းသို့ မည်သည့် အဖိုးစားနားမျှမပါဘဲ မရွှေ့မပြောင်း နိုင်သည့် ပစ္စည်းများအားလုံးကို လွှဲပြောင်းပေးရမည်ဟု ဖော်ပြပါရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ်၉ အရ Auto Industrial Group (AUTO & R&R)သည် ဘဏ်အာမခံ ကြေး(Performance Bank Guarantee)အဖြစ် နှစ်စဉ်ရင်းနှီးမြှုပ်နှံမှု၏ ၃% ဘဏ္ဍာရေးနှစ်၏ ပထမလတွင် ပေးဆောင်မည်ဟု ဖော်ပြထားပါသည်။

၁၇။ အဆိုပြုလုပ်ငန်းအား ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာနတို့မှ အထူးမှတ်ချက်ပြုရန် မရှိပါကြောင်း၊ တနင်္သာရီတိုင်း အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှလည်း တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ တနင်္သာရီတိုင်း မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း (နှစ်ရှည်ပင်)မှလည်း တနင်္သာရီတိုင်းအတွင်း ဆီအုန်းဇော ပြည့်မီရေး ရည်မှန်းချက်ကို တစ်တပ်တအား အထောက်အကူပြုသွားမည်ဖြစ်၍ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် သစ်တော ရေးရာဝန်ကြီးဌာနမှလည်း ဆီအုန်းစိုက်ပျိုးမည့် ဧရိယာသည် ကြိုးဝိုင်းအတွင်း ကျရောက်မှု မရှိသော်လည်း သစ်ပင်ကြီးများ ပေါက်ရောက်သည့် ဧရိယာအချို့ပါဝင်နေ၍ အပင်ကြီးများ ပေါက်ရောက်သည့် မြေဧရိယာအတွင်း သစ်ထုတ်လုပ်ငန်း ဆောင်ရွက်ပြီးမှ အပြောင်ရှင်း၍ ဆီအုန်း ပင်များ စိုက်ပျိုးသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၈။ လုပ်ငန်းဆောင်ရွက်ရန်အတွက် လုပ်သားများ ခန့်ထားရာတွင် လုပ်ငန်းသဘာဝအရ နှစ်အလိုက်ဖော်ပြထားပြီး ပြည်တွင်းမှ ၅၃၀၀ ဦးနှင့် ပြည်ပမှ ၂၈ ဦး စုစုပေါင်း ၅၃၂၈ ဦး ခန့်ထား ရန်လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၁၉။ နိုင်ငံခြားကုမ္ပဏီ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် Auto Industrial Group Co., Ltd. သည် ကိုရီးယားသမ္မတနိုင်ငံ Shinhan Bank တွင် Account No. 100- 019-6882401 ဖွင့်ထားကြောင်း (၁၂-၁-၂၀၁၀)နေ့စွဲဖြင့် ထောက်ခံချက် ကိုလည်းကောင်း၊ Resources & Resources Pte., Ltd.(R&R)သည် စင်ကာပူနိုင်ငံ OCBO ဘဏ်၏ (၂၀-၄-၂၀၁၀)ရက်စွဲပါ ဖော်ပြချက်အရ Account No. 501183883301 ဖြင့် ငွေကြေးခိုင်မာမှု ကောင်းမွန်သော ကုမ္ပဏီဖြစ်ကြောင်း ထောက်ခံချက် ကို တင်ပြထားပါသည်။

၂၀။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၁)ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို လျှောက်ထားလာပါသည်။

၂၁။ ရင်းနှီးမြှုပ်နှံမှုအဖြစ် တင်သွင်းမည့် စက်ပစ္စည်းများတွင် Dozer (19ton) (၅)စီး၊ Excavator(0.2m$^2$)(၆)စီး၊ Excavator(0.7m$^2$)(၃)စီး၊ Excavator(1.0m$^2$)(၁)စီး၊ Dump Truck(15ton)(၂၁)စီး၊ Dump Truck(9.5ton)(၃၅)စီး၊ Oil Tanker(16ton)(၄)စီး၊ Barge(265ton)(၂)စီး၊ Generator (75KW)(၉)လုံး၊ Generator (300KW)(၁၃)လုံး၊ Car(SUV)(၉)စီး၊ Vehicle(12 Seater)(၈)စီး၊ Vehicle(24 Seater)(၈)စီး တို့ပါဝင်ကြောင်း တင်ပြထားပါသည်။

၂၂။ သို့ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ၏ လမ်းညွှန်ချက်နှင့်အညီ Resources & Resources Pte., Ltd.(R&R)၏ ဒါရိုက်တာအဖွဲ့ဝင်များ၊ ကုမ္ပဏီ၏ငွေကြေးခိုင်မာမှု အထောက်အထားများ၊ လုပ်ငန်းဆောင်ရွက်မှု အလားအလာများအား စိစစ်ပြီးဖြစ်ပါ၍ Myanmar Auto Corporation တည်ထောင်၍ ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ်ခြင်းလုပ်ငန်းကို ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်းစနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုနိုင်ရေး အတွက် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၂၃။(က) Myanmar Auto Corporationတည်ထောင်၍ ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကို သဘောတူ- မတူ။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၁)ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့်သင့်လျော်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ- မတူ။

(ဂ) သဘောတူခွင့်ပြုပါလျှင် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် သဘောတူ- မတူ။

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်**

၂၄။ ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

**ကုန်သွယ်မှုမူဝါဒကောင်စီ။**

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာနှင့် အစုရှင်များ၏အမည် | ဒါရိုက်တာနှင့် အစုရှင်များ၏လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar Auto Corporation | Party A<br><br>Auto Industrial Group<br>Repersented by<br>1.Mr. Joon Kook CHOI<br>CEO<br>PP No. JR 3105190 | <br><br><br><br>7-1203 Jin Heung APT,65 bunji, Cheongdam-dong, Gangnam-gu, Seoul, 135-953 R.O Korea. |
| | | Party B<br>Resources & Resources Pte., Ltd.<br>Repersented by<br>1.Mr. Jung Pil CHOI<br>Director(Repersentative)<br>KR 0283497 | <br><br><br>102-303 Kolon Linden-groove, Siheung-dong, Sujeong-gu, Seongnam SI, Gyeonggi-do, 461-370, Republic of Korea. |
| | | 2.Mr.Joon Kook CHOI<br>Director<br>M 02291647 | 7-1203 Jin Heung APT,65 bunji, Cheongdam-dong, Gangnam-gu, Seoul, 135-953 R.O Korea. |
| | | 3.Mr.Moon San JUN<br>Director<br>S 2745549 B | 22 Longong Puntong, 05-01 Country Grandeur Singapore. (576439) |
| | | 4.Mr.Eun Hee LEE<br>Secertary<br>S 2745550 F | 22 Longong Puntong, 05-01 Country Grandeur Singapore. (576439) |

| | |
|---|---|
| ၁။ကုမ္ပဏီ၏ တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | Tel; ၀၁-၆၆၇၄၃၆<br>Fax; ၉၅-၁-၆၆၇၄၄၆ |
| ၂။ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ | အမှတ်(၃၁)၊ သီရိမင်္ဂလာရိပ်သာ၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကုန်မြို့။ |
| ၃။ကုမ္ပဏီ၏ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးကြည်ဝင်း<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း |
| ၄။ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | စိုက်ပျိုးရေးနှင့် ထုတ်လုပ်ရေး |
| ၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့် နေ့စွဲ | – |
| ၆။ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့ | – |
| ၇။ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | – |



ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ ဧပြီလ(၈)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-င | ၈၅၁ | Resources & Resources Pte., Ltd၏ ဒါရိုက်တာအဖွဲ့ဝင်များမှာ မည်သူများဖြစ်သည်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာနနှင့် နိုင်ငံခြားရေးဝန်ကြီးဌာန များမှ ပြန်လည်စိစစ်ရန်နှင့် စိစစ်၍ရှင်းလင်းပြီးမှသာ ကုန်သွယ်မှုမူဝါဒကောင်စီ သို့ ပြန်လည်တင်ပြရန် ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။<br>လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန။<br>နိုင်ငံခြားရေးဝန်ကြီးဌာန။<br>ပြည်ထဲရေးဝန်ကြီးဌာန။<br>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ |






WWM /TTN 9-4-2010

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/နှ-၄၄၅/ ၂၀၁၀(၁၂၉၂၆)

**Myanmar Auto Corporation တည်ထောင်၍ဆီအုန်း စိုက်ပျိုး ခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ။**

အကျဉ်းချုပ်။ ။လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)ပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ဘုတ်ပြင်းမြို့နယ် ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧက ၁၃၃၆၀၀ ပေါ်တွင် ဆီအုန်းဧက ၁၀၀,၆၀၀ စိုက်ပျိုးရန် ကိုရီးယားနိုင်ငံ Auto Industrial Group မှ ၅၁ % နှင့် စင်ကာပူနိုင်ငံ Resources & Resources PTE, Ltd. မှ ၄၉ % ဖြင့် Myanmar Auto Corporation တည်ထောင်၍ ဆီအုန်း စိုက်ပျိုးခြင်း နှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်းကို ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း (Product Sharing Contract) စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါသည်။ ထုတ်လုပ်မှု၏ ၄၀%ကို ပြည်ပသို့ရောင်းချ၍ ၆၀%ကို ပြည်တွင်း၌ ရောင်းချခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းဖြစ်ပါသည်။

အဆိုပြုချက်ကို ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၃/၂၀၁၀)(၄-၈-၂၀၁၀) အစည်းအဝေးမှ Myanmar Auto Corporation တည်ထောင်၍ ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၁)ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက်လုပ်ငန်းနှင့် သင့်လျော်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန်၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

လုပ်ငန်း၏ ကနဦးရင်းနှီးမြှုပ်နှံမှုမှာ ချေးငွေ US$ ၅၇ သန်းအပါအဝင် စုစုပေါင်း US$ ၆၂ သန်းဖြစ်ပြီး ၎င်းတွင် ငွေသား US$ ၁၇.၈၇၅ သန်း၊ စက်ပစ္စည်းကိရိယာ US$ ၂၂.၃၈၅သန်း၊ ကုန်ကြမ်းနှင့်အလားတူပစ္စည်းများ US$ ၂၁.၁၄၀သန်းနှင့် ကျွမ်းကျင်မှု နည်းပညာ US$ ၀.၆၀၀ သန်းတို့ ပါဝင်ပါသည်။

လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅)နှစ်ဖြစ်ပြီး နှစ်ဘက်သဘောတူညီချက်ဖြင့် နောက်ထပ်(၂၅)နှစ် သက်တမ်းတိုးဆောင်ရွက်ရန် ဖြစ်ပါသည်။ စိုက်ပျိုးရေးကာလ (တည်ဆောက်ရေးကာလ) (၆)နှစ်ဖြစ်ပါသည်။

Auto Industrial Group (AUTO & R&R)သည် တနင်္သာရီတိုင်းဒေသကြီး၊ ဘုတ်ပြင်းမြို့နယ် ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧရိယာ (၁၃၃,၆၀၀)ဧကအနက် စိုက်ပျိုးမြေ

ဖော်ထုတ်နိုင်မည့် မြေဧရိယာ (၁၀၀,၆၀၀) ဧကကို နှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးမည်ဖြစ်ပါသည်။

စားအုန်းဆီ ရောင်းဈေးနှုန်းမှာ တစ်တန်လျှင် US$ ၄၂၀ ဖြစ်ပါသည်။ တစ်နှစ်ပျမ်းမျှ ထုတ်လုပ်မှုမှာ ၁၄၆,၉၅၈ တန်ဖြစ်ပါသည်။

ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှစီမံကိန်းကာလအတွင်းUS$(၈၉.၁၆၆)သန်း ရရှိနိုင်မည် ဖြစ်သည့်အပြင် ခန့်မှန်းခြေ ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန် စုစုပေါင်း US$(၂၆၀) သန်းခန့် ရရှိနိုင်မည်ဖြစ်ပါသည်။

စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် (သို့မဟုတ်) စာချုပ်ဝင်တစ်ဖက်က စာချုပ်ကို ရပ်စဲပါက Auto Industrial Group (AUTO & R&R)သည် မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်းသို့ မည်သည့် အဖိုးစားနားမျှမပါဘဲ မရွှေ့မပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို လွှဲပြောင်းပေးရမည်ဟု ဖော်ပြပါရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ်၉ အရ Auto Industrial Group (AUTO & R&R)သည် ဘဏ်အာမခံကြေး(Performance Bank Guarantee)အဖြစ် နှစ်စဉ် ရင်းနှီး မြှုပ်နှံမှု၏ ၃% ကို ဘဏ္ဍာရေးနှစ်၏ ပထမလတွင် ပေးဆောင်မည်ဟု ဖော်ပြထားပါသည်။

လုပ်ငန်းဆောင်ရွက်ရန်အတွက် လုပ်သားများ ခန့်ထားရာတွင် လုပ်ငန်းသဘာဝအရ နှစ်အလိုက်ဖော်ပြထားပြီး ပြည်တွင်းမှ ၅၃၀၀ ဦးနှင့် ပြည်ပမှ ၂၈ ဦး စုစုပေါင်း ၅၃၂၈ ဦး ခန့်ထားရန်လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

အဆိုပြုချက်နှင့်အတူ ကုမ္ပဏီတွင် ပါဝင်သည့် ဒါရိုက်တာများနှင့် ကုမ္ပဏီနှင့် ပတ်သက်သည့် အကြောင်းအရာများကို ပူးတွဲ အဖြစ်လည်းကောင်း၊ ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာန၊ တနင်္သာရီတိုင်းဒေသကြီး အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီ၊ တနင်္သာရီတိုင်း ဒေသကြီး မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေး လုပ်ငန်း(နှစ်ရှည်ပင်)၊ တနင်္သာရီတိုင်း ဒေသကြီး မြေစာရင်းဦးစီးဌာနနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များကို နောက်ဆက်တွဲ(က) အဖြစ်လည်းကောင်း၊ ထုတ်လုပ်မှုအပေါ် အကျိုးအမြတ် ခွဲဝေသည့် စာချုပ် (Product Sharing Agreement) (မူကြမ်း) ကို နောက်ဆက်တွဲ(ခ) အဖြစ်လည်း ကောင်း တင်ပြအပ်ပါသည်။

နိုင်ငံခြားကုမ္ပဏီ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် Auto Industrial Group သည် ကိုရီးယားသမ္မတနိုင်ငံ Shinhan Bank တွင် Account No. 100- 019-688240 ဖွင့်ထားကြောင်း (၁၂-၁-၂၀၁၀)နေ့စွဲဖြင့် ထောက်ခံချက်ကိုလည်းကောင်း၊ Resources & Resources PTE, Ltd.(R&R)သည် စင်ကာပူနိုင်ငံ OCBO ဘဏ်၏ (၂၀-၄-၂၀၁၀) ရက်စွဲပါ ဖော်ပြချက်အရ Account No. 501183883301 ဖြင့် ငွေကြေးခိုင်မာမှု ကောင်းမွန်သော ကုမ္ပဏီဖြစ်ကြောင်း ထောက်ခံချက်ကို တင်ပြထားပါသည်။

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၁)ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို လျှောက်ထားလာပါသည်။

**ဆုံးဖြတ်ရန်အချက်**

Myanmar Auto Corporation တည်ထောင်၍ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုရန် အတွက် အောက်ပါအတိုင်း တင်ပြအပ်ပါသည်။

(က) Myanmar Auto Corporation တည်ထောင်၍ ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကို သဘောတူ- မတူ။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ(၂၁)ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သင့်လျော်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ- မတူ။

၂၂/၈/၁၀

အတွင်းရေးမှူး(ကိုယ်စား)
(သီတာမြင့်၊ညွှန်ကြားရေးမှူး)

၄။ အဆိုပြုချက်နှင့်အတူ ကုမ္ပဏီတွင်ပါဝင်သည့် ဒါရိုက်တာများနှင့် ကုမ္ပဏီနှင့်ပတ်သက်သည့် အကြောင်းအရာများကို ပူးတွဲအဖြစ်လည်းကောင်း၊ ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာန၊ တနင်္သာရီတိုင်း ဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ တနင်္သာရီတိုင်း ဒေသကြီး မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်)၊ တနင်္သာရီတိုင်း ဒေသကြီး မြေစာရင်း ဦးစီးဌာနနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များကို နောက်ဆက်တွဲ(က) အဖြစ် လည်းကောင်း၊ ထုတ်လုပ်မှုအပေါ် အကျိုးအမြတ်ခွဲဝေသည့် စာချုပ် (Product Sharing Agreement) (မူကြမ်း)ကို နောက်ဆက်တွဲ(ခ) အဖြစ်လည်းကောင်း တင်ပြအပ်ပါသည်။

၅။ လုပ်ငန်း၏ ကနဦးရင်းနှီးမြှုပ်နှံမှုမှာ ချေးငွေ US$ ၅၇ သန်းအပါအဝင် စုစုပေါင်း US$ ၆၂.၀ သန်းဖြစ်ပြီး ၎င်းတွင် ငွေသား US$ ၁၇.၈၇၅ သန်း၊ စက်ပစ္စည်းကိရိယာ US$ ၂၂.၃၈၅ သန်း၊ ကုန်ကြမ်းနှင့်အလားတူပစ္စည်းများ US$ ၂၁.၁၄၀သန်းနှင့် ကျွမ်းကျင်မှု နည်းပညာ US$ ၀.၆၀၀ သန်းတို့ ပါဝင်ပါသည်။

၆။ လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅)နှစ်ဖြစ်ပြီး နှစ်ဘက်သဘောတူညီချက်ဖြင့် နောက်ထပ်(၂၅)နှစ် သက်တမ်းတိုးဆောင်ရွက်ရန်ဖြစ်ပါသည်။ စိုက်ပျိုးရေးကာလ (တည်ဆောက်ရေးကာလ) (၆)နှစ်ဖြစ်ပါသည်။

၇။ Auto Industrial Group (AUTO & R&R)သည် တနင်္သာရီတိုင်း ဒေသကြီး ၊ ဘုတ်ပြင်းမြို့နယ် ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧရိယာ (၁၃၃,၆၀၀)ဧကအနက် စိုက်ပျိုးမြေဖော်ထုတ်နိုင်မည့် မြေဧရိယာ (၁၀၀,၆၀၀) ဧကကို အောက်ပါအတိုင်း နှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးမည် ဖြစ်ပါသည်။

| နှစ် | ဖော်ထုတ်စိုက်ပျိုးမည့်ဧရိယာ |
|---|---|
| ပထမနှစ် | ၆၀၀ ဧက |
| ဒုတိယနှစ် | ၁၀,၀၀၀ ဧက |
| တတိယနှစ် | ၁၅,၀၀၀ ဧက |
| စတုတ္ထနှစ် | ၂၅,၀၀၀ ဧက |
| ပဉ္စမနှစ် | ၂၅,၀၀၀ ဧက |
| ဆဋ္ဌမနှစ် | ၂၅,၀၀၀ ဧက |
| စုစုပေါင်း | ၁၀၀,၆၀၀ ဧက |

၈။ စားအုန်းဆီ ရောင်းဈေးနှုန်းမှာ တစ်တန်လျှင် US$ ၄၂၀ ဖြစ်ပါသည်။ တစ်နှစ်ပျမ်းမျှ ထုတ်လုပ်မှုမှာ ၁၄၆,၉၅၈ တန်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှစီမံကိန်းကာလအတွင်းUS$(၈၉.၁၆၆)သန်း ရရှိနိုင်မည် ဖြစ်သည့်အပြင် ခန့်မှန်းခြေ ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန် စုစုပေါင်း US$(၂၆၀) သန်းခန့် ရရှိနိုင်မည်ဖြစ်ပါသည်။

၁၀။ Auto Industrial Group (AUTO & R&R)သည် ယခုထွက်ရှိလာမည့် စားအုန်းဆီ ကုန်ကြမ်းနှင့် ဆီချောများကို မြေရှင်အဖြစ် ဆောင်ရွက်မည့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်းသို့ ဆီသီးခိုင် စတင်ထွက်ရှိ လာသည့် အချိန်မှ စ၍ အောက်ပါအတိုင်း ခွဲဝေခံစားမည်ဖြစ်ကြောင်း စာချုပ်(မူကြမ်း)အပိုဒ် ၅.၁၅ တွင် ဖော်ပြထားပါသည်။

| စဉ် | ကာလ | ထွက်ရှိမှုအပေါ် ပေးရန်အချိုး | ရရှိနိုင်မည့် မျှော်မှန်း ထွက်ကုန်ပမာဏ(တန်) |
|---|---|---|---|
| (က) | ဆီသီးခိုင်ထွက်ရှိလာချိန်မှ (၁၀)နှစ်ထိ | ၂.၅ % | ဆီကြမ်း (၁၁,၇၀၀) |
| (ခ) | (၁၁)နှစ်မှ (၁၄)နှစ်ထိ | ၅ % | ဆီကြမ်း (၃၉,၄၀၀) |
| (ဂ) | (၁၅)နှစ်မှ (၁၈)နှစ်ထိ | ၇ % | ဆီကြမ်း (၆၃,၄၀၀) (သို့မဟုတ်) ဆီချော(၄၇,၅၀၀) |
| (ဃ) | (၁၉)နှစ်မှ (၂၂)နှစ်ထိ | ၅ % | ဆီကြမ်း (၄၆,၅၀၀) (သို့မဟုတ်) ဆီချော(၃၄,၉၀၀) |
| (င) | (၂၃)နှစ်မှစ၍ နောက်ပိုင်း | ၂.၅ % | ဆီကြမ်း (၅၁,၃၀၀) (သို့မဟုတ်) ဆီချော(၃၈,၅၀၀) |

၁၁။ စာချုပ်(မူကြမ်း)အပိုဒ် ၅.၁၅ အရ ကော်မတီသည် နှစ်စဉ်မျှော်မှန်းထားသည့် ထုတ်လုပ်မှု ပမာဏထက် လျော့နည်းပါက နှစ်စဉ်ထုတ်လုပ်မှုကို လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနသို့တင်ပြပြီး မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်းအတွက် ထုတ်လုပ်မှုကို ခွဲဝေ ခံစားမည်ဖြစ်ပါသည်။ အကယ်၍ စိုက်ပျိုးနိုင်သည့် မြေဧရိယာသည် စီမံကိန်းပါ မျှော်မှန်း ထားသည့် ဧရိယာထက်လျော့နည်းခဲ့လျှင် Auto Industrial Group (AUTO & R&R) မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်းနှင့် မြေယာဖွံ့ဖြိုးမှုအတွက် ပြန်လည်ညှိနှိုင်းရေးဆွဲရန်အဆိုပြုမည်ဖြစ်ကြောင်းစာချုပ်တွင် ဖော်ပြထား

ပါသည်။ စာချုပ်(မူကြမ်း)အပိုဒ်၅.၁၇အရ ကုမ္ပဏီ၏ နှစ်စဉ်ဆီအုန်း ထုတ်လုပ်မှုအပေါ် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်းနှင့် Auto Industrial Group (AUTO & R&R)မှ ကျွမ်းကျင်သူများ ဖွဲ့စည်းထားသည့် ကော်မတီမှ မျှတသည့် ခွဲဝေမှုကို အတည်ပြုမည်ဖြစ်သည်။ နှစ်စဉ်ထုတ်လုပ်မှုကို (၆)လတစ်ကြိမ် စစ်ဆေး အတည်ပြုမည်ဖြစ်သည်။ နှစ်စဉ်ထုတ်လုပ်မှုအပေါ် ကော်မတီ၏ အတည်ပြုချက်နှင့်အညီ စာချုပ် အတိုင်း လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့သည် ထုတ်လုပ်မှုပမာဏကို ခွဲဝေမည် ဖြစ်သည်။

၁၂။ စာချုပ်(မူကြမ်း)အပိုဒ် ၈.၂ အရ စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် (သို့မဟုတ်) စာချုပ်ဝင်တစ်ဖက်က စာချုပ်ကို ရပ်စဲပါက Auto Industrial Group (AUTO & RnR)သည် မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်းသို့ မည်သည့် အဖိုးစားနားမျှမပါဘဲ မရွှေ့မပြောင်း နိုင်သည့် ပစ္စည်းများအားလုံးကို လွှဲပြောင်းပေးရမည်ဟု ဖော်ပြပါရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ်၉ အရ Auto Industrial Group (AUTO & RnR)သည် ဘဏ်အာမခံ ကြေး(Performance Bank Guarantee)အဖြစ် နှစ်စဉ်ရင်းနှီးမြှုပ်နှံမှု၏ ၃% ဘဏ္ဍာရေးနှစ်၏ ပထမလတွင် ပေးဆောင် မည်ဟု ဖော်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအား ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာနတို့မှ အထူးမှတ်ချက်ပြုရန် မရှိပါကြောင်း၊ တနင်္သာရီတိုင်း ဒေသကြီး အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှလည်း တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ တနင်္သာရီတိုင်း ဒေသကြီး မြန်မာ့ စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း (နှစ်ရှည်ပင်)မှလည်း တနင်္သာရီတိုင်း ဒေသကြီး အတွင်း ဆီအုန်းဇေ ပြည့်မှီရေး ရည်မှန်းချက်ကို တစ်တပ်တအား အထောက်အကူပြုသွားမည်ဖြစ်၍ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှလည်း ဆီအုန်းစိုက်ပျိုးမည့် ဧရိယာ သည် ကြိုးဝိုင်းအတွင်း ကျရောက်မှု မရှိသော်လည်း သစ်ပင်ကြီးများ ပေါက်ရောက်သည့် ဧရိယာအချို့ ပါဝင်နေ၍ အပင်ကြီးများ ပေါက်ရောက်သည့် မြေဧရိယာအတွင်း သစ်ထုတ်လုပ်ငန်း ဆောင်ရွက်ပြီးမှ အပြောင်ရှင်း၍ ဆီအုန်း ပင်များစိုက်ပျိုး သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် လုပ်သားများ ခန့်ထားရာတွင် လုပ်ငန်းသဘာဝအရ နှစ်အလိုက်ဖော်ပြထားပြီး ပြည်တွင်းမှ ၅၃၀၀ ဦးနှင့် ပြည်ပမှ ၂၈ ဦး စုစုပေါင်း ၅၃၂၈ ဦး ခန့်ထား ရန်လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၁၅။ နိုင်ငံခြားကုမ္ပဏီ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် Auto Industrial Group သည် ကိုရီးယားသမ္မတနိုင်ငံ Shinhan Bank တွင် Account No. 100- 019-688240 ဖွင့်ထားကြောင်း (၁၂-၁-၂၀၁၀)နေ့စွဲဖြင့် ထောက်ခံချက် ကိုလည်းကောင်း၊ Resources & Resources PTE Ltd.(R&R)သည် စင်ကာပူ နိုင်ငံ OCBO ဘဏ်၏ (၂၀-၄-၂၀၁၀) ရက်စွဲပါ ဖော်ပြချက်အရ Account No. 501183883301 ဖြင့် ငွေကြေးခိုင်မာမှု ကောင်းမွန်သော ကုမ္ပဏီဖြစ်ကြောင်း ထောက်ခံချက်ကို တင်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၁)ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို လျှောက်ထားလာပါသည်။

၁၇။ ရင်းနှီးမြှုပ်နှံမှုအဖြစ် တင်သွင်းမည့်စက်ပစ္စည်းများတွင် Dozer (19ton) (၅)စီး၊ Excavator(0.2m$^2$)(၆)စီး၊ Excavator(0.7m$^2$)(၃)စီး၊ Excavator(1.0m$^2$)(၁)စီး၊ Dump Truck(15ton)(၂၀)စီး၊ Dump Truck(9.5ton)(၃၅)စီး၊ Oil Tanker(16ton)(၄)စီး၊ Barge(265ton)(၂)စီး၊ Generator (75KW)(၉)လုံး၊ Generator (300KW)(၁၃)လုံး၊ Car(SUV)(၉)စီး၊ Vehicle(12 Seater)(၈)စီး၊ Vehicle(24 Seater)(၈)စီး တို့ပါဝင်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။(က) Myanmar Auto Corporationတည်ထောင်၍ ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကို သဘောတူ- မတူ။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၁)ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သင့်လျော်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ- မတူ။

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်**

၁၉။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာနှင့် အစုရှင်များ၏အမည် | ဒါရိုက်တာနှင့် အစုရှင်များ၏လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar Auto Corporation | Party A<br><br>Auto Industrial Group<br>Repersented by<br>1.Mr. Joon Kook CHOI<br>CEO<br>PP No. JR 3105190 | <br><br><br><br>7-1203 Jin Heung APT,65 bunji, Cheongdam-dong, Gangnam-gu, Seoul, 135-953 R.O Korea. |
| | | Party B<br>Resources & Resources Pte., Ltd.<br>Repersented by<br>1.Mr. Jung Pil CHOI<br>Director(Repersentative)<br>KR 0283497 | <br><br><br>102-303 Kolon Linden-groove, Slheung-dong, Sujeong-gu, Seongnam SI, Gyeonggi-do, 461-370, Republic of Korea. |
| | | 2.Mr.Joon Kook CHOI<br>Director<br>M 02291647 | 7-1203 Jin Heung APT,65 bunji, Cheongdam-dong, Gangnam-gu, Seoul, 135-953 R.O Korea. |
| | | 3.Mr.Moon San JUN<br>Director<br>S 2745549 B | 22 Longong Puntong, 05-01 Country Grandeur Singapore. (576439) |
| | | 4.Mr.Eun Hee LEE<br>Secertary<br>S 2745550 F | 22 Longong Puntong, 05-01 Country Grandeur Singapore. (576439) |

| | |
|---|---|
| ၁။ဌာန၏ တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | Tel; ၀၁-၆၆၇၄၃၆<br>Fax; ၉၅-၁-၆၆၇၄၄၆ |
| ၂။ဌာန၏ လိပ်စာအပြည့်အစုံ | အမှတ်(၃၁)၊ သီရိမင်္ဂလာရိပ်သာ၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကုန်မြို့။ |
| ၃။ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးကြည်ဝင်း<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း |
| ၄။ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | စိုက်ပျိုးရေးနှင့် ထုတ်လုပ်ရေး |
| ၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့် နေ့စွဲ | – |
| ၆။ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့ | – |
| ၇။ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | – |



ပြည်ထောင်စုမြန်မာနိုင်ငံတော်

# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၁၀ ခုနှစ်၊ ဩဂုတ်လ(၄)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၃/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၇-က | ၁၃၀၉ | (က) Myanmar Auto Corporation တည်ထောင်၍ဆီအုန်းစိုက်ပျိုးခြင်းနှင့်သန့်စင်ပြီးစားအုန်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်။<br>(ခ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၁)ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက်လုပ်ငန်းနှင့်သင့်လျော်သည့်အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန်။<br>(ဂ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊<br>လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန။ |



**ပြည်ထောင်စုမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊နေပြည်တော်**

ဖက်(စ)၊ ၉၅-၆၇-၄၀၆၃၃၃      တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅။

စာအမှတ်၊ ရက-၆(ခ)/န-၄၄၅/၂၀၁၀(၁၂၉၂၆)
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ ဩဂုတ်လ ၂၆ ရက်။

အကြောင်းအရာ။ ။ <u>Myanmar Auto Corporation တည်ထောင်၍ ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လုပ်ငန်းအဆိုပြုချက် တင်ပြခြင်းကိစ္စ။</u>

အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆-၈-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ရက-၆(ခ)/န-၄၄၅/၂၀၁၀(၁၂၉၂၆)၏ မိတ္တူစောင်ရေ (၇) စောင်ကို ပူးတွဲပေးပို့အပ်ပါသည်။

(လက်မှတ်)

ဥက္ကဋ္ဌ(ကိုယ်စား)
(သူရိန်ဇော်၊ အတွင်းရေးမှူး)

<u>အတွင်းရေးမှူး</u>

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့</u>

မိတ္တူ -

ရုံးလက်ခံ/မျှောစာတွဲ